အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Baho Animals Care Center Co., Ltd. မှ တိရစ္ဆာန်ကျန်းမာရေး စောင့်ရှောက်မှု ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Baho Animals Care Center Co., Ltd.<br>- ဦးညီညီလွင်(ခ) ဦးညီညီသိန်းမြင့်<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Paetrakul Pornchanai (ထိုင်း) ၆၀%<br>Ms. Pornpun Arisara (ထိုင်း) ၂၀%<br>ဦးညီညီလွင်(ခ) ဦးညီညီသိန်းမြင့် (မြန်မာ) ၂၀%<br>- တိရစ္ဆာန် ကျန်းမာရေးစောင့်ရှောက်မှု ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-အေ/၂၉၊ သဇင်(၁)လမ်း ၊ FMI CITY ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေ/အဆောက်အဦပိုင်ရှင်<br>မြေ/အဆောက်အဦငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးကံထွန်းဝင်း<br>- ကျပ် သန်း ၁၂.၀၀၀ (တစ်နှစ်)<br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦး ၅၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား** | - အမေရိကန်ဒေါ်လာ ၀.၄၀၀ သန်း |

| ထည့်ဝင်မည့်အမျိုးအစား | **နိုင်ငံခြား (၈၀%)** | **မြန်မာ (၂၀%)** | **စုစုပေါင်း (US$ / သန်း)** |
|---|---|---|---|
| ငွေသား | ၀.၁၂၂ | ၀.၀၈ | ၀.၂၀၂ |
| စက်ပစ္စည်း (ပြည်တွင်း) | ၀.၁၅၆ | - | ၀.၁၅၆ |
| ပရိဘောဂပစ္စည်း(ပြည်တွင်း) | ၀.၀၁၉ | - | ၀.၀၁၉ |
| ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၁၅ | - | ၀.၀၁၅ |
| မြေငှားရမ်းခ | ၀.၀၀၈ | - | ၀.၀၀၈ |
| **စုစုပေါင်း** | **၀.၃၂၀** | **၀.၀၈** | **၀.၄၀၀** |

<table>
<tr><td>၇။</td><td>နှစ်စဉ်ဝန်ဆောင်မှု</td><td>
<table>
<tr><th>စဉ်</th><th>ဝန်ဆောင်မှု<br>အမျိုးအမည်</th><th>အရေအတွက်</th><th>ဝန်ဆောင်ခ<br>(ကျပ်)</th></tr>
<tr><td>(က)</td><td>ကာကွယ်ဆေး(ခွေး)</td><td>၄၀၀</td><td>၁၂,၀၀၀</td></tr>
<tr><td>(ခ)</td><td>Ultrasound</td><td>၈၀</td><td>၂၀,၀၀၀</td></tr>
<tr><td>(ဂ)</td><td>X-Ray</td><td>၈၀</td><td>၂၅,၀၀၀</td></tr>
<tr><td>(ဃ)</td><td>အရိုးခွဲစိတ်</td><td>၅၀</td><td>၁,၀၀၀,၀၀၀</td></tr>
<tr><td>(င)</td><td>အရေပြားရောဂါ<br>ကုသခြင်း</td><td>၂၀</td><td>၈၀,၀၀၀</td></tr>
<tr><td>(စ)</td><td>သွေးစစ်ခြင်း</td><td>၈၅</td><td>၄၀,၀၀၀</td></tr>
<tr><td>(ဆ)</td><td>သားကြောဖြတ်(ထီး/မ)</td><td>၄၀၀</td><td>၁၇၀,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
<table>
<tr><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td>၁၂ ဦး</td><td>၄ ဦး</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၅၀၀,၀၀၀</td><td>US$ ၃,၂၀၀</td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၂၀၀,၀၀၀</td><td>US$ ၁,၂၂၀</td></tr>
</table>
</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်၊လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ် နှင့် ဝန်ထမ်းများ၏ လစာဝင်ငွေပေါ်တွင် ဝင်ငွေခွန်ပေး ဆောင်ခြင်း အစီအစဉ် တို့အား တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Baho Animals Care Center Co., Ltd. အမည်ဖြင့် AYA Bank တွင် ၁၂-၇-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂၁,၆၇၈,၈၄၂.၈၀ ရှိကြောင်း တင်ပြထားပါသည်။<br>- မြေငှားစာချုပ်နှင့် မြေပိုင်ဆိုင်မှုအထောက်အထားတို့အား တင်ပြထားပါသည်။</td></tr>
<tr><td>၁၀။</td><td>စိစစ်တင်ပြချက်</td><td>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကုမ္ပဏီသည် ၂၀၁၉ ခုနှစ် ဇန်နဝါရီလမှစ၍ တိရစ္ဆာန် ကျန်းမာရေး စောင့်ရှောက်မှု ဝန်ဆောင်မှုလုပ်ငန်းအား စတင်ဆောင်ရွက်နေပါကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များလျှောက်ထားရန်လိုအပ်ပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၀၉/ ၂၀၁၉( ၄၈၇ )

ရက်စွဲ၊ ၂၀၁၉ခုနှစ် အောက်တိုဘာ လ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Baho Animals Care Center Co., Ltd. မှ တိရစ္ဆာန်ကျန်းမာရေး စောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာ ခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Mr. Paetrakul Pornchanai မှ(၆၀%)၊ Ms. Pornpun Arisara မှ (၂၀%)နှင့် ဦးညီညီလွင်(ခ)ဦးညီညီသိန်းမြင့်မှ (၂၀%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Baho Animals Care Center Co., Ltd. တည်ထောင်၍ အမှတ်-အေ/၂၉၊ သဇင်(၁) လမ်း ၊ FMI CITY ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၀၅၅ ကေတွင် တိရစ္ဆာန်ကျန်းမာရေး စောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Baho Animals Care Center Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်၊လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ်နှင့် အဆောက်အဦပိုင်ရှင် ဦးကံထွန်းဝင်းနှင့် Baho Animals Care Center Co., Ltd. တို့ ချုပ်ဆိုမည့် အဆောက်အဦငှားရမ်းခြင်းစာချုပ်နှင့် ပိုင်ဆိုင်မှုအထောက်အထားများကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၁၀ နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၀.၀၅၅ ကေပေါ်ရှိ အဆောက်အဦငှားရမ်း၍ နှစ်စဉ်ငှားရမ်းခမှာ ကျပ်သန်း ၁၂.၀၀ သန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဆောင်ရွက်မည်ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၄၀၀ သန်း ဖြစ်ပါ သည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား (၈၀%) | မြန်မာ (၂၀%) | စုစုပေါင်း (US$/ သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၂၂ | ၀.၀၈၀ | ၀.၂၀၂ |
| စက်ပစ္စည်း(ပြည်တွင်း) | ၀.၁၅၆ | - | ၀.၁၅၆ |
| ပရိဘောဂပစ္စည်း(ပြည်တွင်း) | ၀.၀၁၉ | - | ၀.၀၁၉ |
| ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၁၅ | - | ၀.၀၁၅ |
| မြေငှားရမ်းခ | ၀.၀၀၈ | - | ၀.၀၀၈ |
| **စုစုပေါင်း** | **၀.၃၂၀** | **၀.၀၈** | **၀.၄၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၂ ဦး နှင့် ပြည်ပဝန်ထမ်း ၄ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၂၂၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၂၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့်အမျိုးအစားများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှု အမျိုးအမည် | အရေအတွက် | ဝန်ဆောင်ခ(ကျပ်) |
|---|---|---|---|
| (က) | ကာကွယ်ဆေး(ခွေး) | ၄၀၀ | ၁၂,၀၀၀ |
| (ခ) | Ultrasound | ၈၀ | ၂၀,၀၀၀ |
| (ဂ) | X-Ray | ၈၀ | ၂၅,၀၀၀ |
| (ဃ) | အရိုးခွဲစိတ် | ၅၀ | ၁,၀၀၀,၀၀၀ |
| (င) | အရေပြားရောဂါ ကုသခြင်း | ၂၀ | ၈၀,၀၀၀ |
| (စ) | သွေးစစ်ခြင်း | ၈၅ | ၄၀,၀၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** (နောက်ဆက်တွဲ-က)

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် စက်တင်ဘာ လ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၇/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် (၅၅) အရ အမှတ်-အေ/၂၉၊ သဇင်(၁)လမ်း ၊ FMI CITY ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၀၅၅ ဧကတွင် Baho Animals Care Center Co., Ltd. အမည်ဖြင့် **တိရစ္ဆာန်ကျန်းမာရေး စောင့်ရှောက်မှုဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခြင်းအား** ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ) အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း နှင့် အဆိုပါလုပ်ငန်းအတွက် တာဝန်ပေးခန့်အပ်ဆောင်ရွက်မည့် ကျွမ်းကျင်ပညာရှင်များနှင့်ပတ်သက်၍ မြန်မာနိုင်ငံတိရစ္ဆာန်ဆေးပညာကောင်စီ၏ သဘောထားရယူသင့်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Baho Animals Care Center Co., Ltd. အမည်ဖြင့် AYA Bank တွင် ၁၁-၇-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂၁,၆၇၈,၈၄၂.၈၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထား ရန် လိုအပ်ပါသည်။

(ဃ) ကုမ္ပဏီသည် ၂၀၁၉ ခုနှစ် ဇန်နဝါရီလမှစ၍ တိရစ္ဆာန် ကျန်းမာရေး စောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်းအား စတင်ဆောင်ရွက်နေကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Baho Animals Care Center Co., Ltd. မှ တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှုဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ (က) ၅၅/၅၅

| စာအမှတ် | M၅-၉၉၉ |
|---|---|
| ရက်စွဲ | ၁၅.၉.၁၇ |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၈.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / အ - ၀၀၉ / ၂၀၁၉ (၃၈၀)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Mr.Paetrakul Pornchanai မှ ၆၀%၊ ထိုင်းနိုင်ငံ Ms. Pornpun Arisara မှ ၂၀% နှင့် မြန်မာနိုင်ငံ ဦးညီညီလွင်(ခ)ဦးညီညီသိန်းမြင့်မှ ၂၀% ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Baho Animals Care Center Co.,Ltd ထည်ထောင်ကာ အမှတ်-(အေ-၂၉)၊ သဇင်(၁) လမ်း၊ FMI CITY ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၀၅၅ ဧကပေါ်တွင် တိရစ္ဆာန် ကျန်းမာရေးစောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၉.၉.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၅) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(လက်မှတ်)

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Baho Animals Care Center Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2019/Cabinet 37(5)

နောက်ဆက်တွဲ (ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

| ဝင်စာအမှတ် | M4-1180 |
|---|---|
| ရက်စွဲ | 22.8.2019 |

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၂၈၆ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၈-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/အ-၀၀၉/၂၀၁၉(၃၈၁)

၁။ Baho Animals Care Center Co., Ltd သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အမှတ်- (အေ-၂၉) ၊ သဇင် (၁)လမ်း၊ FMI CITY ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၀.၀၅၅) ဧက ပေါ်တွင် တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အတည်ပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ခေတ္တတိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်အရ-

(က) လုပ်ငန်းဆောင်ရွက်မည့် အဆောက်အဦမှာ ( ၄၀ x ၆၀ ) ပေ အုတ်၊ RC (၂)ထပ် တည်ဆောက်ထားပြီး အောက်ထပ်တွင် ဧည့်သည်များ နားနေရန်နေရာ၊ ငွေရှင်းကောင်တာ၊ တိရစ္ဆာန်များစောင့်ရှောက်ပေးရန် သန့်ရှင်းရေးပြုလုပ်ခြင်းနှင့် ရေချိုးပေးခြင်းများ ပြုလုပ်ခန်း၊ ပဏာမစမ်းသပ်စစ်ဆေးခန်းနှင့် ဆေးသွင်းခန်း၊ ခွဲစိတ်ကုသခန်း၊ ဓာတ်မှန်ခန်း၊ Staff Bedroom စသည်ဖြင့် နေရာအလိုက် စနစ်တကျ သီးသန့်စီ ဖွဲ့စည်းတည်ဆောက်ထားပြီး အပေါ်ထပ်တွင် Doctor Bedroom ၊ ဝန်ထမ်းများ အဆောင်တို့ကို စနစ်တကျဖွဲ့စည်းထားပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မှုအနေဖြင့် Dr. Pronchanai နှင့် Dr. Arisara တို့မှ Medical Services and Pets Care တို့ကို ဆောင်ရွက်မည်ဖြစ်ပြီး ဦးညီညီလွင်က စီမံအုပ်ချုပ်မှုပိုင်းဆိုင်ရာများကို ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

(ခ) ပြည်တွင်းဝန်ထမ်းများအနေဖြင့် တိရစ္ဆာန်ဆေးကုဆရာဝန် (၄)ဦး၊ Vet Nurse (၃)ဦး၊ သန့်ရှင်းရေး (၁)ဦး၊ ထမင်းချက် (၁)ဦး တို့ရှိပြီး ပြည်ပဝန်ထမ်းအနေဖြင့် တိရစ္ဆာန် ဆေးကုဆရာဝန် (၃)ဦး၊ Operation Manager (၁)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

(ဂ) တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှု ဝန်ဆောင်မှုလုပ်ငန်းများကိုလည်း အိမ်အရောက်နှင့် (၂၄) နာရီ ပိတ်ရက်မရှိ ဆောင်ရွက်ပေးလျက်ရှိပြီး ဝန်ဆောင်မှုလုပ်ငန်းအမျိုးအစားအလိုက် ကွန်ပျူတာစနစ်ဖြင့် မှတ်တမ်းများအား စနစ်တကျထားရှိ၍ အခကြေးငွေများ သတ်မှတ်ဆောင်ရွက်ထားရှိပါကြောင်း၊

(ဃ) ဝန်ထမ်းများအတွက် လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် သက်သာချောင်ချိရေးကိုလည်း ကုမ္ပဏီ၏ အကျိုးအမြတ်ပေါ် မူတည်၍ လိုအပ်သလိုကူညီပံ့ပိုးဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်သန့်ရှင်းရေး၊ ညစ်ညမ်းမှုမရှိစေရေးကိုလည်း အလေးထားဆောင်ရွက်ထားပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးလုပ်ငန်းများအတွက်လည်း လိုအပ်သည်များ ဆောင်ရွက်ထားသည်ကိုတွေ့ရှိရပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Baho Animals Care Center Co., Ltd ၏ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ သဇင် (၁)လမ်း၊ မြေ (ဂ.၁၅၅) ဧက ပေါ်တွင် ဆောင်ရွက်မည့် တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှုဝန်ဆောင်မှုလုပ်ငန်းသည် ပြည်တွင်း/ပြည်ပမှ ကျွမ်းကျင်တိရစ္ဆာန်ဆေးကုဆရာဝန်များနှင့် နိုင်ငံတကာအဆင့်မီဝန်ဆောင်မှုများကို ကျွမ်းကျင်စွာ ဆောင်ရွက်ပေးနိုင်သည့်အပြင်ခေတ်မီစက်ပစ္စည်းကိရိယာများကို အသုံးပြု၍ ဆေးကုသခြင်းနှင့် ဝန်ဆောင်မှုလုပ်ငန်းများကိုအရည်အသွေးပြည့်ဝစွာ ဆောင်ရွက်ပေးနိုင်ကြောင်း တွေ့ရှိရသဖြင့် စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် အဆိုပါလုပ်ငန်းအတွက်တာဝန်ပေးခန့်အပ်ဆောင်ရွက်မည့် ကျွမ်းကျင်ပညာရှင်များနှင့်ပတ်သက်၍ မြန်မာနိုင်ငံတိရစ္ဆာန်ဆေးပညာကောင်စီ၏ သဘောထားရယူသင့်ပါကြောင်း အကြံပြုပြန်ကြားအပ်ပါသည်။

၂၄/၈/၁၈

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော